# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၀၇၆/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဝင်းဆွေ

(ခ) **အဘ အမည်** ဦးကြင်ဝမ်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လသန(နိုင်) ၀၀၇၃၅၇

(ဃ) **နေရပ်လိပ်စာ** အမှတ်(၄၀၀) ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Win & Win Company Limited (ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဆေးရုံသုံး သံထည် ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်)ရှိ မြေဧရိယာ(၂၇.၆၅)ဧကအနက် (၁၂.၃၉) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၂၂၁.၇၆ တိတိ (ကျပ် နှစ်ရာနှစ်ဆယ် တစ်သန်း၊ ခုနှစ်သိန်း ခြောက်သောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့်ကြော်ငြာစာအမှတ်၊ ၈၃ /၂၀၁၅(မနသ)**
**၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၈ ရက်**

၁။ မြန်မာကုမ္ပဏီဖြစ်သော Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်)သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း)ပိုင်မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်မြို့နယ်၊စက်ဘီးစက်ရုံ(ကျောက်ဆည်)ရှိမြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ)အား ငှားရမ်း၍ ဆေးရုံသုံး သံထည် ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၆/၂၀၁၅) အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်)ကို ဆေးရုံသုံး သံထည် ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၇၆/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ် ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံ ရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူနိုင်ခွင့်ကို လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိကောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ Win & Win Company Limited (ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယာဉ် စက်ကိရိယာနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) ပိုင် မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် စက်ရုံ၊ မြေ၊ အဆောက်အဦငှားရမ်းခြင်းအတွက်တစ်နှစ်လျှင်ကျပ်၉၆.၀၀သန်း(ကျပ်ကိုးဆယ့်ခြောက်သန်းတိတိ) အားစက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယာဉ်စက်ကိရိယာနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) သို့ ပေးသွင်းရမည်ဖြစ်ပြီး ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် ကျပ် ၄၃.၀၂ သန်း (ကျပ် လေးဆယ့်သုံးသန်းနှင့် နှစ်သောင်းတိတိ) ကျခံရမည် ဖြစ်ပါသည်။

၉။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်)ကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှု လုပ်ငန်း (ယာဉ်စက်ကိရိယာနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) တို့ချုပ်ဆိုမည့် ပထမအကြိမ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကိုလက်မှတ်ရေးထိုး၍ထိုက်သင့်သောတံဆိပ်ခေါင်းခွန်များအားဆောင်ပြီးသည့် အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့မပျက်မကွက် ပေးပို့တင်ပြ ရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်း ကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်း ကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင် ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(c)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၁၉၈/၂၀၁၅ (၁၂၈၀)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

၁၂။ Win & Win Company Limited (ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်)သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင်အလုပ်သမား၊အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်းစီစဥ် ဆောင်ရွက်ရမည်။

၁၃။ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့် အရထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာကွယ်ရေးအစီအမံများကိုဝန်ခံကတိပြုထားသည့်အတိုင်းစနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက် ရမည်ဖြစ်ပြီးမီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကိုအသုံးပြုတတ်စေရန်သင်တန်းများ ပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကိုဤကော်မရှင်သို့**မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Win & Win Company Limited (ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်)သည် ပုဂ္ဂလိက စက်မှု လုပ်ငန်းဥပဒေအရ မန္တလေးတိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၆။ Win & Win Company Limited (ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကိုဤခွင့်ပြုမိန့်ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

## ဖြန့်ဝေခြင်း

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃) အကြီးစားစက်မှု လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ Win & Win Company Limited (ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၆-၆-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၅-၆-၂၀၁၅ | ၁၄-၇-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၅-၆-၂၀၁၅ | ၁၆-၇-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၅-၆-၂၀၁၅ | ၈-၇-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၂၁/၂၀၁၅) သို့ တင်ပြခြင်း | ၂၂-၆-၂၀၁၅ | | |
| ၄ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၃၀-၆-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၈) စုံ ပေးပို့ခြင်း | | ၂၈-၇-၂၀၁၅ | |
| ၆ | **စုစုပေါင်းကြာမြင့်ရက် ၄၃ ရက်** | | | |

အကြောင်းအရာ။ **ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်မှဆေးရုံသုံးသံထည်ကုတင်နှင့်ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဝင်းဆွေ (အဘ- ဦးကြင်ဝမ်) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆေးရုံသုံးသံထည်ကုတင်နှင့်ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄ ။ | လုပ်ငန်းတည်နေရာ | - စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| ၅။ | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း ( ယာဉ် စက်ကျွန်နှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ) |
| | မြေငှားသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | နှစ်စဉ်မြေငှားရမ်းခ | - ၂၇.၆၅ ဧက အတွက် ကျပ် ၉၆ သန်း ဖြစ်ပါသည်။ ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ)အတွက် ကျပ် ၄၃.၀၂ သန်း ဖြစ်ပါသည်။ တစ်နှစ် တစ်စတုရန်းမီတာလျှင် ၈၅၉ ကျပ် နှုန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့် အမျိုးအစား | - **ကျပ် ၂၂၁.၇၆ သန်း** **ကျပ် (သန်း)** |
| | ငွေပမာဏ | ၁၀၀.၀၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၉.၇၆ |
| | အဆောက်အဦပြုပြင်ခြင်း | ၅၀.၀၀ |
| | မော်တော်ယာဉ် (ပြည်တွင်း) | ၆၂.၀၀ |
| | **စုစုပေါင်း** | **၂၂၁.၇၆** |
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၃၀၈၄.၄၈ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ်) | - ကျပ် ၃၀၀၃.၆၃ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၈၀.၈၅ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၂၆.၉၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၄၆.၈၈ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၃ နှစ်နှင့် ၅ လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၀.၇၄ % |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀ % ပြည်တွင်းရောင်းချခြင်း |

| | | |
|---|---|---|
| ၁၄။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (၆နှစ် မြောက်) | |
| | **အမျိုးအစား** | **ထုတ်လုပ်မှု(pcs)** **ရောင်းဈေးနှုန်း(ကျပ်/ခု)** |
| | Normal Patient Bed | ၄၃,၂၀၀ ၈၈,၀၀၀ |
| | Bed for Orthopaedic Patient | ၄၃,၂၀၀ ၃၅၆,၀၀၀ |
| | Drip Stand | ၄၃,၂၀၀ ၄၀,၀၀၀ |
| | Bedside Locker | ၄၃,၂၀၀ ၅၆,၀၀၀ |
| | Chart Trolley | ၄၃,၂၀၀ ၈၆,၀၀၀ |
| | Bed for Household use | ၄၃,၂၀၀ ၈၈,၀၀၀ |
| ၁၅။ | ဝန်ထမ်းအင်အား (ပထမနှစ်) စုစုပေါင်း ပြည်တွင်း | - **၃၉၀ ဦး** ၃၉၀ ဦး(အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၂၀,၀၀၀ နှင့်အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာကျပ်၅၀၀,၀၀၀) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁,၀၀၀ KVA |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၃% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - စက်ရုံဝင်းအတွင်းအရေးပေါ်သုံးစွဲနိုင်ရန်သင့်တင့်လျောက်ပတ်သောအကျယ်အဝန်းရှိသည့်ရေကန်များထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား၁၀ပေအကွာစီတွင်ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊သဲနှင့် ရေများလည်း ထားရှိမည် ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန်တည်ဆောက်၍စနစ်တကျသိမ်းဆည်းထားရှိမည်ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေး အတွက် နယ်မြေခံ စည်ပင်သာယာရေးကော်မတီနှင့်လည်းညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအားအလှည့်ကျစေလွှတ်၍တက်ရောက်စေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြား | - ငွေကြေးအထောက်အထားအဖြစ်ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ၈-၇-၂၀၁၅ အထိ USD ၆၀,၈၇၈.၈၆ နှင့် ကမ္ဘောဇဘဏ် (ကမာရွတ်) တွင် ၂၁-၇-၂၀၁၅ အထိ ကျပ် ၆၉,၆၃၇,၁၂၁.၅၃ ရှိကြောင်း တင်ပြ ထားပါသည်။<br>ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း တို့ကို တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |

| | | |
|---|---|---|
| ၂၀။ | စိစစ်တင်ပြချက် | - အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း ( ယခင် စက္ကူနှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း)၊ စက်မှုဝန်ကြီးဌာန နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်တို့ချုပ်ဆိုထားသော စက်ဘီးစက်ရုံ(ကျောက်ဆည်) အား ငှားရမ်းသည့်သဘောတူ စာချုပ် တင်ပြထားပါသည်။ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၂၅ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်၂၃/၂၀၁၃ ၏ သဘောတူ ခွင့်ပြုချက်အရ ၁-၅-၂၀၁၃ ရက်နေ့မှ စတင်၍ နှစ် ၃၀ ငှားရမ်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။<br>စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုသော ပထမအကြိမ်သက်တမ်း တိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူ စာချုပ် အားလည်း တင်ပြထားပါသည်။<br>၎င်းပြင်ဆင်ချုပ်ဆိုသည့်သဘောတူစာချုပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှသဘောထားမှတ်ချက်ပြန်ကြားပြီးဖြစ်ပါသည်။<br>ငှားရမ်းခွင့် ရရှိထားသည့်မြေမှာ ၂၇.၆၅ ဧကဖြစ်ပြီး ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်သို့စက်ဘီးစက်ရုံ(ကျောက်ဆည်) အား ငှားရမ်းသည့်သဘောတူ စာချုပ် ရည်ရွယ်ချက်တွင် စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်း၊ ဆေးရုံသုံး ကုတင်၊ ပရိဘောဂ နှင့် အိမ်သုံး ပရိဘောဂ ပစ္စည်း များပြည်တွင်းပြည်ပသို့ တင်ပို့ ရောင်းချသွားရန်နှင့်သစ်ပါးလွှာ လုပ်ငန်းဆောင်ရွက်ရန် ဟု ဖော်ပြပါရှိပါသည်။<br>ငှားရမ်းမြေ ၂၇.၆၅ ဧကအနက် ၁၂.၃၉ ဧကတွင် ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ကျန် ၁၅.၂၆ ဧကတွင် သစ်ပါးလွှာ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။<br>တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်ရန်အာမခံ(Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် ဘဏ်ခွဲ ၃၊ ရန်ကုန်မြို့ (သို့မဟုတ်)မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင်အပ်နှံ ထားရှိ၍ ထားရှိမှုမှတ်တမ်းအား အမှတ် ၃ အကြီးစား စက်မှု လုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံး ပစ္စည်းလုပ်ငန်း) တွင် သိမ်းဆည်း ထားရှိရမည်ဟု ဖော်ပြပါရှိပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီး စက်ရုံ (ကျောက်ဆည်) ရှိ မြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၂၁.၇၆ သန်း |
| အရင်းကြေကာလ | - ၃ နှစ် နှင့် ၅လ |
| IRR | - ၃၀.၇၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယား ဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၆၇၇.၇၂၀ သန်း | ကျပ် ၇၃၄.၄၀၀ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၉၂.၄၃၄ သန်း | ကျပ် ၁၃၄.၇၅ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃၁၅.၀၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၀)ဦး |
| ၈ | CSR (၃%) | | ကျပ် ၁၁.၀၉ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၂၁၅.၁၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၉၀ ဦး<br>ပြည်တွင်းလုပ်သား(၃၉၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေ ပါသည်။ |
| | | **ကျပ် ၇၇၂.၃၁၄ သန်း** | **ကျပ် ၁၄၁၁.၅၀၅ သန်း** |
| | | ၁ း ၈ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/ မ-၁၂၁၆/၂၀၁၅( ၁၀၂၇ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃၀ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်မှ ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း) ပိုင်စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ကျောက်ဆည်မြို့နယ်၊မန္တလေးတိုင်းဒေသကြီးရှိမြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ) တွင် BOT စနစ်ဖြင့် ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက်မှ ဆေးရုံသုံး သံထည် ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဦးဝင်းဆွေ(အဘ- ဦးကြင်ဝမ်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ ၂၇.၆၅ ဧက အတွက် ကျပ် ၉၆ သန်း ဖြစ်ပါသည်။ ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည့် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ)အတွက် ကျပ် ၄၃.၀၂ သန်း ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာ လျှင် ကျပ် ၈၅၉ နှုန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၂၂၁.၇၆ သန်း ဖြစ်ပြီး အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၁၀၀.၀၀ |
| (ခ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၉.၇၆ |
| (ဂ) | အဆောက်အဦပြုပြင်ခြင်း | ၅၀.၀၀ |
| (ဃ) | မော်တော်ယာဉ် (ပြည်တွင်း) | ၆၂.၀၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ၂၂၁.၇၆ |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၃၉၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ဆေးရုံသုံး ကုတင်နှင့် ပရိဘောဂများကို ၁၀၀ % ပြည်တွင်း ရောင်းချ မည်ဖြစ်ပါ သည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု (Pcs)** | **ရောင်းဈေးနှုန်း (ကျပ်/ခု)** |
|---|---|---|
| Normal Patient Bed | ၄၃,၂၀၀ | ၈၈,၀၀၀ |
| Bed for Orthopaedic Patient | ၄၃,၂၀၀ | ၃၅၆,၀၀၀ |
| Drip Stand | ၄၃,၂၀၀ | ၄၀,၀၀၀ |
| Bedside Locker | ၄၃,၂၀၀ | ၅၆,၀၀၀ |
| Chart Trolley | ၄၃,၂၀၀ | ၈၆,၀၀၀ |
| Bed for Household use | ၄၃,၂၀၀ | ၈၈,၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁,၀၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်-

| **စဉ်** | | **ကျပ် (သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၃၀၈၄.၄၈ |
| (ခ) | အသုံးစရိတ် | ၃၀၀၃.၆၃ |
| (ဂ) | အသားတင်အမြတ် | ၈၀.၈၅ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၆.၉၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၄၆.၈၈ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ်နှင့် ၅လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၀.၇၄ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှု မရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်ရေးကိုအထောက်အကူဖြစ်စေပါကြောင်း၊အဆိုပါလုပ်ငန်းဆောင်ရွက်

ခြင်း အပေါ် ဒေသခံလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်မှု ရှိပါကြောင်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သီးခြား အကြံပြုရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အား အမြတ်ငွေ၏ ၃% ကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လုပ်ငန်း စီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်။

(၂) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan EMP) ရေးဆွဲတင်ပြရန်နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ရေးဆွဲ တင်ပြမည်ဖြစ်ကြောင်း၊ ပြဋ္ဌာန်းထားသည့် ဥပဒေနှင့် နည်းဥပဒေများအတိုင်း လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။**

**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှုရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ **ကုမ္ပဏီမှလည်း**

**စက်မှုဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြလာပါသည်။** **နောက်ဆက်တွဲ (ဂ)**

၉။ ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှု ဘဏ်တွင် ၈-၇-၂၀၁၅ အထိ USD ၆၀,၈၇၈.၈၆ နှင့် ကမ္ဘောဇဘဏ် (ကမာရွတ်) တွင် ၂၁-၇-၂၀၁၅ အထိ ကျပ် ၆၉,၆၃၇,၁၂၁.၅၃ ရှိကြောင်း တင်ပြ ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသား၂ ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး၊ နိုင်ငံခြား မှ နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းထားသည့်စည်းကမ်းချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအတွက် စက်ရုံဝင်းအတွင်းအရေးပေါ်သုံးစွဲနိုင်ရန်သင့်တင့်လျောက်ပတ်သောအကျယ်အဝန်းရှိသည့်ရေကန်များထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား ၁၀ပေ အကွာစီတွင် ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊သဲနှင့် ရေများလည်း ထားရှိမည် ဖြစ်ကြောင်း၊ စက်ရုံမှထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန် တည်ဆောက်၍ စနစ်တကျ သိမ်းဆည်းထားရှိမည် ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေး အတွက် နယ်မြေခံ စည်ပင်သာယာရေး ကော်မတီနှင့်လည်းညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျ စေလွှတ်၍ တက်ရောက်စေမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံဝန်ထမ်း အလုပ်သမားများအတွက် အခမဲ့ ကြို/ပို့ ဖယ်ရီကားများ စီစဉ်ထားရှိမည် ဖြစ်ပါကြောင်း၊ နေ့လည်စာနှင့် လက်ဖက်ရည် ကျွေးမွေးမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းကျွမ်းကျင်မှု သင်တန်းများအား အလျဉ်းသင့်သလို စီစဉ်၍ တက်ရောက်စေမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ အချိန်ပိုဆင်းရပါက တစ်နာရီအတွက် လုပ်အားခ ငွေကြေးအား ၂ ဆ တွက်ချက်ပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံတွင် ရှေးဦး သူနာပြုသင်တန်း များနှင့် နာမကျန်းသူများ နားနေခန်း ၁ ခန်း စီစဉ်ထားရှိမည်ဖြစ်ကြောင်း၊ ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေး ဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေမည် ဖြစ်ပါကြောင်း၊ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ် လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက်ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းများ အတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓာတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ဝင်းနှင့် ဝင်းကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူမှုအဖွဲ့အစည်း များ၏ လူမှုရေး လှုပ်ရှားဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၃% အား CSR ရန်ပုံငွေ အဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ကျင်းပသော ၂၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း ( ယခင် စက္ကူနှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း)၊ စက်မှုဝန်ကြီးဌာနနှင့်ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသောစက်ဘီးစက်ရုံ (ကျောက်ဆည်)အား ငှားရမ်းသည့်သဘောတူ စာချုပ် တင်ပြထားပါသည်။ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၂၅ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု အစိုးရ အဖွဲ့ အစည်းအဝေး အမှတ်စဉ်၂၃/၂၀၁၃ ၏ သဘောတူ ခွင့်ပြုချက်အရ ၁-၅-၂၀၁၃ ရက်နေ့မှ စတင်၍ နှစ် ၃၀ ငှားရမ်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံး ပစ္စည်းလုပ်ငန်း)နှင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော ပထမအကြိမ် သက်တမ်း တိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူ စာချုပ် အားလည်း တင်ပြထားပါသည်။

(ဂ) ၎င်းပြင်ဆင်ချုပ်ဆိုသည့် သဘောတူစာချုပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှ သဘောထား မှတ်ချက် ပြန်ကြားချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်ပါသည်။

(ဃ) ငှားရမ်းခွင့် ရရှိထားသည့်မြေမှာ ၂၇.၆၅ ဧကဖြစ်ပြီး ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်သို့ စက်ဘီးစက်ရုံ (ကျောက်ဆည်) အား ငှားရမ်းသည့်သဘောတူ စာချုပ် ရည်ရွယ်ချက်တွင် စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်း၊ ဆေးရုံသုံးကုတင်၊ ပရိဘောဂနှင့် အိမ်သုံး ပရိဘောဂပစ္စည်းများပြည်တွင်းပြည်ပသို့တင်ပို့ရောင်းချသွားရန်နှင့်သစ်ပါးလွှာလုပ်ငန်း ဆောင်ရွက်ရန် ဟု ဖော်ပြပါရှိပါသည်။

(င) ငှားရမ်းမြေ ၂၇.၆၅ ဧကအနက် ၁၂.၃၉ ဧကတွင် ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ကျန် ၁၅.၂၆ ဧကတွင် သစ်ပါးလွှာ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(စ) တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်ရန် အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် ဘဏ်ခွဲ ၃၊ ရန်ကုန်မြို့(သို့မဟုတ်)မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင်အပ်နှံထားရှိ၍ထားရှိမှု မှတ်တမ်းအား အမှတ် ၃ အကြီးစား စက်မှု လုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း) တွင် သိမ်းဆည်း ထားရှိရမည်ဟု ဖော်ပြပါရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း)ပိုင် စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ကျောက်ဆည်မြို့နယ်၊မန္တလေးတိုင်းဒေသကြီးရှိမြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၂.၃၉ ဧက (၅၀,၁၄၀.၅၉၅ စတုရန်းမီတာ) တွင် BOT စနစ်ဖြင့် ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက်မှ ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆(၁၄၃)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

**အကြောင်းအရာ ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏(၂၅.၆.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၃ / မ - ၁၂၁၆ / ၂၀၁၅ (၈၂၁)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်ဘီးစက်ရုံ(ကျောက်ဆည်)ရှိ မြေဧရိယာ(၁၂.၃၉)ဧက (၅၀၁၄၀.၅၉၅ စတုန်းရန်းမီတာ)အား ငှားရမ်းပြီး ဆေးရုံသုံး သံထည်ခုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းကို ဝင်းနှင့် ဝင်းကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်သွားမည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လုပ်ငန်းလုပ်ကိုင်နိုင်သည့် မြေနေရာဖြစ်ခြင်း၊ တိုင်းဒေသကြီးအတွင်း အမှန်တကယ် လိုအပ်သည့် လုပ်ငန်းဖြစ်ခြင်း၊ ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖြစ်ပေါ်စေခြင်းတို့အပြင် အောက်ပါအချက်များနှင့်လည်း ကိုက်ညီမှုရှိသည်ကို စိစစ်တွေ့ရှိရပါသည် -

(က) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ ၊
(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည် ၊
(ဂ) အဆိုပါ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါသည် ၊
(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သီးခြားအကြံပြုရန် မရှိပါ ။

၃။ သို့ဖြစ်ပါ၍ ဝင်းနှင့် ဝင်းကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်သည့် ဆေးရုံသုံး သံထည်ခုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို
လှည့်လည်စာတွဲ / ရုံးလက်ခံ ။

8/D/Mar/T.T.L/pag(210)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT · 3181
၁၀ · ၇ · ၁၅

စာအမှတ် ၃(၁)/၁၁(ဃ)(၆)/( ၁၄၃၁ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဇူလိုင်လ ၁၄ ရက်

M-1323
21/7/15

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅ - ၆ - ၂၀၁၅ ရက်စွဲပါစာ အမှတ် ၊ ရက - ၃ / မ - ၁၂၁၆ / ၂၀၁၅ ( ၈၂၂ )

၁။ ဝင်း နှင့် ဝင်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန ၊ အမှတ် ( ၃ ) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုအောက်ရှိ စက်ဘီးစက်ရုံ (ကျောက်ဆည်) ၊ ကျောက်ဆည်မြို့နယ် ၊ မန္တလေးတိုင်းဒေသကြီးတွင် မြေဧရိယာ ( ၂၇.၆၅ ) ဧကအနက် (၁၂.၃၉) ဧက ( ၅၀,၁၄၀.၅၉၅ စတုရန်းမီတာ ) အား ငှားရမ်း၍ ဆေးရုံသုံးသံထည်ကုတင် နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအား စိစစ်ရာတွင် ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်းတွင် သံထည်ကုန်ကြမ်း ပစ္စည်းများ သိုလှောင်ခြင်း ၊ သုံးစွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ၊ သံထည်များဖြတ်တောက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများ ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ ၊ လေ ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု နှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်၍ ဝင်း နှင့် ဝင်းကုမ္ပဏီလီမိတက်မှ ဆေးရုံသုံးသံထည်ကုတင် နှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်

အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု ( CSR ) အား အမြတ်ငွေ၏ ၃% ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan EMP ) ရေးဆွဲတင်ပြရန် နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက် ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

M-1267
1317

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၁၁၅၈)

ရက် စွဲ၊ ၂၀၁၅ ခု နှစ်၊ ဇူလိုင်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၆.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၁၆ / ၂၀၁၅ (၈၂၃)

၁။ ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်း ချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်း မှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက် ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှု ရှိပါသည်။

၃။ သို့ပါ၍ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်မှ ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်
# (ဆေးရုံသုံးသံထည်ကုတင်နှင့်ပရိဘောဂထုတ်လုပ်ခြင်း)

× × × × × × × × × × × × × × × ×

ကော်မတီ(စိုင်း)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂) ၂၀၁၄-၂၀၁၅ (၅၂၈၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **စက်ဘီးစက်ရုံ(ကျောက်ဆည်)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းရှိ စက်ဘီးစက်ရုံ(ကျောက်ဆည်) ကို ၂၅.၇.၂၀၁၃ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ် စဉ်(၂၃/၂၀၁၃)၏ သဘောတူခွင့်ပြုချက်အရ Win & Win Co., Ltd. သို့ ၁.၅.၂၀၁၃ ရက်နေ့မှ စ၍ နှစ်(၃၀) ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ Win & Win Co., Ltd. မှ ငှားရမ်းစက်ရုံတွင် ငွေကျပ်(၉,၅၀၀.၀၀၀)သန်းရင်းနှီး မြှုပ်နှံ၍ စက်ဘီးအမျိုးမျိုး၊ ဆေးရုံသုံးပရိဘောဂနှင့် အိမ်သုံးပရိဘောဂအမျိုးမျိုး၊ သစ်ပါးလွှာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းတို့ကို ဆောင်ရွက်လျက်ရှိပြီး၊ ယခုအခါ ငွေကျပ် (၁,၂၇၉.၀၂)သန်းထပ်မံရင်းနှီးမြှုပ်နှံ၍ သစ်ပါးလွှာစက်ရုံနှင့် ပရိဘောဂနှင့်ကိရိယာတန်ဆာပလာ ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းအား တိုးချဲ့ဆောင်ရွက်လိုပါသဖြင့် ငှားရမ်းသက်တမ်းကို (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်လိုပါကြောင်း ကုမ္ပဏီမှတင်ပြလာပါသည်။

၃။ သို့ပါ၍ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းရှိ စက်ဘီးစက်ရုံ(ကျောက်ဆည်)အား Win & Win Co., Ltd. သို့ (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်နိုင်ရေးအတွက် ကုမ္ပဏီ၏ အဆိုပြုလွှာအား ပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၂၀.၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

D:\2015\Feb(2015)mm.doc-70

# Win & Win Co., Ltd.

(ဝင်း &ဝင်း ကုမ္ပဏီလီမိတက်)

No.6, 6 Mile, Pyay Road, Hlaing Township, Yangon, Myanmar. Tel : 95-1-500894, Fax: 95-1-507443, Email:ff3@myanmar.com.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၅ ခု နှစ် ၊ ဇွန် လ ( ၈ ) ရက်

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်သည် ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင် (၁)ဖါလုံ အကွာတွင် တည်ရှိသည့် မြေအကျယ်အဝန်း (၂၇.၆၅)ဧကရှိ စက်ဘီးစက်ရုံနေရာတွင် သစ်ပါးလွှာစက်ရုံ တည်ထောင်ပြီး နောက် ကျန်ရှိသည့် မြေအကျယ်အဝန်း(၁၂.၃၉)ဧကေ၌ ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်သည့် စက်ရုံတည်ထောင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ (၁၅) စုံကို လိုအပ်သလို ဆောင်ရွက်ပေး နိုင်ရန်အတွက် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့် –

(ဦးဝင်းဆွေ)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
ဝင်း နှင့် ဝင်း ကုမ္ပဏီလီမိတက်

# Win & Win Co., Ltd.

(ဝင်း & ဝင်း ကုမ္ပဏီလီမိတက်)

No.6, 6 Mile, Pyay Road, Hlaing Township, Yangon, Myanmar, Tel : 95-1-500894, Fax: 95-1-507443, Email:ff3@myanmar.com.mm


ရုံးကိစ္စအတွက်သာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး

နေ့စွဲ ။ ၂၀၁၅ ခုနှစ် ၊ ဇွန် လ ( ၈ ) ရက်

အကြောင်းအရာ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်သည် ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင် (၁)ဖါလုံ အကွာတွင် တည်ရှိသည့် မြေအကျယ်အဝန်း (၂၇.၆၅)ဧကရှိ စက်ဘီးစက်ရုံနေရာတွင် သစ်ပါးလွှာစက်ရုံ တည်ထောင်ပြီးနောက် ကျန်ရှိသည့် မြေအကျယ်အဝန်း(၁၂.၃၉)ဧကၡ် ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်သည့် စက်ရုံတည်ထောင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍၊ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ သံထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ နိုင်ငံခြားဝင်ငွေရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက် စေခြင်း အလို့ငှာလည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထား အပ်ပါသည်။

၃။ ထို့ပြင်၊ ပရိဘောဂလုပ်ငန်းမှ ရရှိသော နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ရရှိသော ဝင်ငွေအား ပထမ(၅)နှစ်အတွက် ဝင်ငွေခွန် သက်သာခွင့်ပြုရန်လည်း လျှောက်ထားအပ်ပါသည်။

၄။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်–

(၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုလုပ်သူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊

*Win & Win Co., Ltd.*

ဝင်း & ဝင်း ကုမ္ပဏီ လီမိတက်

No.400,Strand Road, Latha Township,Yangon, Myanmar.Tel:01-226803 / 223150 Fax.951-227073

Date.....

**Resolution of Special Resolution**
**( Pursuant to Section 82 )**

| | | | |
|---|---|---|---|
| 1. | Name of Company | : | Win & Win Co.,Ltd |
| 2. | Presented for filing by | : | U Win Swe |
| 3. | Date of dispatch of notice specifying the intention to propose as special resolution | : | 12-3-2007 |
| 4. | Passed on | : | 31-3-2007 |

At the Extra-Ordinary General Meeting of the [illegible] of the above Company du convened and held at the Company's Office No.400,Strand Road, Latha Township,Yangon on t following resolution was duly passed unanimously as a Special Resolution.

(1) Resolved that authorised capital of the company as stated in the Memorandum a Articles of Association of the company be raised from K 100,000,000/- (Kyats O Hundred Million ) to Ks 500,000,000/-( Kyats Five Hundred Million ) as follows :

(2) Resolved that the provision in the Mem[illegible] and Articles of Association be chang accordingly.

Recorded By,

*WIN SWE*
**Managing Director**
**Win & Win Co., Ltd.**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

# WIN & WIN COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏ အမည်သည် " ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၁၀၀ ၀၀၀ ၀၀၀ /-(ကျပ် သန်း တစ်ရာ တိတိ) ဖြစ်၍ ငွေကျပ်၁၀ ၀၀၀ /-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀ ၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦး ကြင်ဝမ်<br>အမှတ် - ၁၀၀၊ စည်အိုးတန်း လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>ဗဟန-၀၃၂၁၆၁ | ၅၀ | (signature) |
| ၂။ | ဦး ဝင်း ဆွေ<br>အမှတ် - ၄၀၀၊ ကမ်းနား လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>ပဇတ-၂၂၅၀၂၄ | ၅၀ | (signature) |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ ဩဂုတ် လ၊ ၁၇ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(signature)

ဦး[illegible] D.M.A.

[illegible]

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁၀၀ ၀ ၀၀ ၀၀၀ /-(ကျပ် သန်း တစ်ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀ ၀၀၀ /-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀ ၀၀၀ ) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) **ဦး ကြင်ဝင်း**

(၂) **ဦး ဝင်း ဆွေ**

(၃)

(၄)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( ၅ )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတ်အလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ ဘာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နစ်ဦးနစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်း
အဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်
တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်
မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်း
အဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်း
အဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း
မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြ
သည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်
အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်း
သာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်
ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။
သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာ
နှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား
အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်
ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေ
များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက
အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက်
တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ
ထားသို့ထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်
သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက
စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးကြင်ဝမ်<br>အမှတ်-၁၀၀၊ စဉ့်အိုးတန်းလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>ဘီအ ၁၇ - ၀၃၂၁၆၁ | ၅၀ | |
| ၂။ | ဦးဝင်းဆွေ<br>အမှတ်-၄၀၀၊ ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>ပီဂျီယူ-၂၂၁၅၄ | ၅၀ | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၉ခုနှစ်၊ ဩဂုတ်လ၊ ၁၂ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးခင်မောင်လွင် BA, BL, D.MA.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## WIN & WIN COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is WIN & WIN COMPANY **LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 100,000,000/- ( Kyats ONE HUNDRED MILLION Only ) divided into ( 10,000 ) shares of Ks. 10,000 /- ( Kyats TEN THOUSAND Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

# Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   - (a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.
   - (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   - (c) Livestock breeding, processing and canning of livestock products.
   - (d) Fishing, preserving, milling, canning and processing of marine products.
   - (e) Producing fertilizers, insecticides and animal feeds.
   - (f) Manufacturing of personal goods.
   - (g) Manufacturing of household goods.
   - (h) Manufacturing of vehicles, machineries and spares.
   - (i) Manufacturing of arts and crafts, lacquerwares and furniture.
   - (J) Manufacturing of construction materials and paints.
   - (k) Manufacturing of factory utencils.
   - (1) Manufacturing of electrical and electronic goods.
   - (m) Manufacturing of textile, garments and clothings.
   - (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**ROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Kyin Wan<br>No.100,Sin Oo Dan Street, Latha Township,Yangon.<br>( Merchant ) | Myanmar<br>BR.032161 | 50 | |
| 2. | U Win Swe<br>No.400,Strand Road,Latha Township,Yangon.<br>( Merchant ) | Myanmar<br>PGU-225824 | 50 | |
| 3. | | | | |

Yangon. Dated the 17th. day of August , 1999

*It is hereby certified that the persons mentioned above put their signatures in my presence.*

ဦးစောညွှန့် B.[illegible] BL, D M A,
[illegible]

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

WIN & WIN COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 100,000,000 /- ( Kyats ONE HUNDRED MILLION Only) divided into( 10,000 shares of K. 10,000 /- ( Kyats TEN THOUSAND Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company. and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 9 ).

The First Directors shall be:-

(1) U Kyin Wan

(2) U WIN SWE

(3)

(4)

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( 5 ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future ) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director , General Manager , Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Conpany.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2)* *all sales and purchases of goods by the Company ;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Kyin Wan<br>No.100, Sin Oo Dan Street, Latha Township, Yangon.<br>( Merchant ) | Myanmar<br>BR-032161 | 50 | [signature] |
| 2. | U Win Swe<br>No.400, Strand Road, Latha Township, Yangon.<br>( Merchant ) | Myanmar<br>PGU-225824 | 50 | [signature] |
| 3. | | | | |

Yangon. Dated the 17th day of August , 1999.

*It is hereby certified that the persons mentioned above put their signatures in my presence.*

[signature]

ဦးစော[illegible] B.A., B.L., D.M.A.

[illegible]